

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်




ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၃၇ /၂၀၁၂ ။ ၂၀၁၂ ခုနှစ်၊ မတ် လ ၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးကျော်ဝင်းထွန်း

(ခ) အဘ အမည် ဦးငွေစိုး

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကတတ (နိုင်) ၀၀၀၅၂၅

(ဃ) နေရပ်လိပ်စာ အမှတ် (၁၆၅)၊ (၃၇)လမ်း ၊(၅)ရပ်ကွက်၊ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်းကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Bravo International Manufacturing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် အထည်အမျိုးမျိုးထုတ်လုပ်သည့် လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ)မြေကွက်အမှတ်(၅၂-၅၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၉/၂)၊ ဗိုလ်တေဇလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး ။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၂၀၀.၀၀ (သန်း) (ကျပ်သန်း နှစ်ရာတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၅ / ၂၀၁၂ (မနသ)

နေပြည်တော်၊ ၁၃၇၃ ခုနှစ်၊ တပေါင်းလပြည့်ကျော် ၂ ရက်

(၂၀၁၂ခုနှစ်၊ မတ် လ ၉ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှုကုမ္ပဏီ လီမိတက် (Bravo International Manufacturing Co., Ltd.) သည် ဦးဝင်းနိုင် အမည်ဖြင့်ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ ဗိုလ်တေဇလမ်း၊ မြေတိုင်းရပ်ကွက် အမှတ်(၁၉/၂)၊ မြေကွက်အမှတ် (၅၂၅၃) တို့ရှိ မြေ(၀.၄၀၈) ဧကနှင့်ယင်းမြေ ပေါ်ရှိ အဆောက်အဦ တို့ကို ငှားရမ်း၍ CMP စနစ်ဖြင့် အထည်အမျိုးမျိုး ထုတ်လုပ်သည့် လုပ်ငန်း ကို မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇/၂၀၁၂)(၂၉-၂-၂၀၁၂) အစည်းအဝေး သို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Bravo International Manufacturing Co., Ltd.)အား CMP စနစ်ဖြင့် အထည်အမျိုးမျိုး ထုတ်လုပ်သည့်လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၈၃၇/၂၀၁၂ ကို ထုတ်ပေးလိုက်သည်။

၂။ ကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Bravo International Manufacturing Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ သားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုသည်။ ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေပေါ်တွင် (၅၀%)အထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ ကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Bravo International Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Bravo International Manufacturing Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေနှင့်အဆောက်အဦ အငှားချထားသူ ဦးဝင်းနိုင် နှင့် အငှားချထားခြင်းခံရသူ ကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှုကုမ္ပဏီ လီမိတက် (Bravo International Manufacturing Co., Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုး ပြီးသည့်အခါ ယင်း သဘောတူ စာချုပ်မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၆။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့်စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များ ကို တိကျစွာ လိုက်နာ ဆောင်ရွက် ရမည်။

၇။ ကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Bravo International Manufacturing Co., Ltd.) မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဥ် ဆောင်ရွက်ရမည်။

၈။ ကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Bravo International Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤ ကော်မရှင်သို့ မပျက် မကွက် အစီရင်ခံရမည်။

၉။ ကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Bravo International Manufacturing Co., Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက် ရမည်။

၁၀။ ကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Bravo International Manufacturing Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများ ကို သတ်မှတ်ထား သော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင် ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက် မကွက် အစီရင်ခံ ရမည်။

၁၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီး မြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ ကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Bravo International Manufacturing Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်း သည်အထိ အရေးယူခြင်း ခံရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)
ဥက္ကဋ္ဌ
၃/၆/၁၃

စာအမှတ်၊ရက- ၆(က) /မ- ၁၂/၂၀/၂၀၁၂(၃၂၆၅ )
ရက်စွဲ၊ ၂၀၁၂ခုနှစ်၊ မတ် လ ၉ရက်။

ဖြန့်ဝေခြင်း-

၁။ သမ္မတဦးစီးရုံး။

၂။ ဒုတိယသမ္မတ(၁)ဦးစီးရုံး။

၃။ ဒုတိယသမ္မတ(၂)ဦးစီးရုံး။

၄။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး။

၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၆။ ပြည်ထဲရေးဝန်ကြီးဌာန။

၇။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။

၈။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၉။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၁၀။ အလုပ်သမား ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၃။ စက်မှု ဝန်ကြီးဌာန။

၁၄။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၅။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

~~၁၆။ ဥက္ကဋ္ဌ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ။(အလုပ်သမားဝန်ကြီးဌာန)~~

၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၃၀။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၃၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ အထည်ချုပ် လုပ်ငန်းရှင်များ အသင်း၊ ရန်ကုန်။

၃၂။ အုပ်ချုပ်မှုဒါရိုက်တာ ၊ ကောင်းပေစွ အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်
(Bravo International Manufacturing Co., Ltd.)